ကျွန်တော်တို့ရဲ့ နာမ်ဝိညာဉ်ဟာ ထာဝရဖြစ်ပေမဲ့၊ ခန္ဓာကိုယ်ကတော့ ခဏာပန်းမျှသာဖြစ်ပါတယ်။ ဇီဝကမ္မဗေဒ(Physiology)လေ့လာချက်များက ကျွန်တော်တို့ရဲ့ခန္ဓာကိုယ်ထဲမှာ ရှင်သန်နေတဲ့(Cell)ဆဲလ်ကလပ်စည်းများ ပေါင်းစပ်ပါဝင်နေတယ်လို့ဆိုပါတယ်။ ဒီနည်းနဲ့ခန္ဓာကိုယ်ဟာ ပုံမှန်အနားရချိန်၊ အားလပ်ချိန်တွေမှာ ပြန်လည်သစ်လွင်နေတာပါ။ အဲဒါဟာ စမ်းချောင်းထဲ စီးဆင်းနေတဲ့ ရေလိုဖြစ်နေတာပါပဲ။ နောက်ဆုံး ရုပ်ခန္ဓာ သေကြေပျက်စီးသွားတာတောင် စိတ်ပိုင်း၊ နာမ်ပိုင်းဆိုင်ရာ ကိုယ်ရည်ကိုယ်သွေး သို့မဟုတ် ဝိညာဉ်ဟာ မပြောင်းလဲဘဲ ဆက်လက်ရှင်သန် ကျန်ရှိနေပါတယ်။ ဒါဘာကြောင့်လဲဆိုရင် ဝိညာဉ်ဟာ ရုပ်ခန္ဓာနဲ့ခွဲပြီး သီးခြားတည်ရှိနေနိုင်လို့ပါပဲ။

အခြားတစ်နည်းနဲ့ ဖော်ပြရရင် လူ့ဘဝဟာ ပင်လယ်ထဲမျောနေတဲ့ ရေခဲတောင်နဲ့ပမာတူပါတယ်။ သေးငယ်လှတဲ့ထိပ်ပိုင်းကိုသာ ရေပြင်ပေါ်မှာ တွေ့နိုင်ပါတယ်။ ကျန်အစိတ်အပိုင်းကြီးတစ်ခုလုံး ရေအောက်မြုပ်နေပါတယ်။ ဒါနဲ့ နှိုင်းယှဉ်စဉ်းစားကြည့်ရင် လူ့ဘဝ သက်တမ်းကို ၂–ပိုင်းခွဲခြားနိုင်ပါတယ်။ ပထမက လက်ရှိလောကထဲမှာ လှုပ်ရှားရတဲ့ အလွန့်အလွန် တိုတောင်းတဲ့ဘဝနဲ့ ဒုတိယက သေပြီးနောက် အဆုံးမရှိတဲ့ တမလွန်ဘဝအပိုင်းတို့ပဲ ဖြစ်ပါတယ်။

ဒီကမ္ဘာလောကမှာ ရှိတဲ့အရာအားလုံးဟာ နေသားတကျရှိလှပါတယ်။ လူဟာလည်း သူ့ရဲ့ကိုယ်ရည်ကိုယ်သွေး ဖွံ့ဖြိုးတိုးတက်အောင်လုပ်ဖို့ ခွင့်ပြုထားပါတယ်။ လူနဲ့ အံကိုက် စီစဉ်ထားပါတယ်။ ဒါပေမဲ့ ဒီကမ္ဘာလောကမှာရှိတဲ့ အရာတိုင်းဟာ လူတွေအတွက် စမ်းသပ်မှုတစ်ခုပဲဆိုတာကို ကျွန်တော်တို့ သတိရရပါမယ်။ ဒီလောကကမ္ဘာကြီးဟာ ဘာကြောင့် ခါးသီးမှု၊ မုန်းတီးမှုတွေနဲ့ ပြည့်နှက်နေရတာလဲဆိုတာ မေးစရာအကြောင်းတစ်ခု ရှိပါတယ်။ အဲဒီမကောင်းတဲ့ အတွေ့အကြုံများကို လူတွေအား စမ်းသပ်ဖို့ရာ ဘုရားသခင်က အထူးဖန်တီးထားတာ ဖြစ်ပါတယ်။ အဲဒီ မကောင်းတဲ့ ဆန့်ကျင်ဘက်အခြေအနေထဲမှာ ကောင်းမြတ်တဲ့ စိတ်ထားနဲ့ အသက်ရှင်ရပ်တည်နေနိုင်တယ်ဆိုတာကို လူတွေက သက်သေပြကြရမှာဖြစ်ပါတယ်။ ဘာကြောင့်လဲဆိုရင် ကောင်းမြတ်တဲ့စိတ်ထားနဲ့ ရပ်တည်နေနိုင်သူတွေဟာ နောက်ဆုံးမှာ နိဗ္ဗာန်ဘုံကိုရရှိဖို့ ဘုရားသခင်ရဲ့ခွင့်ပြုချက် ရရှိမှာဖြစ်ပါတယ်။ အခြားသော အပြုအမူ၊ ယဉ်ကျေးသိမ်မွေ့မှုမရှိတဲ့သူတွေ၊ လောကထဲမှာ ဒုစရိုက်မှုကျူးလွန်သူတွေဟာ ငရဲဘုံထဲ ပစ်ချခံကြရမှာပါ။ လွတ်မြောက်ဖို့ မရှိပါဘူး။

## ကျေနပ်လက်သင့်ခံနိုင်သော ဖြေရှင်းချက်တစ်ခု

ကြောင်းကျိုးဆက်နွယ်မှုနိယာမ သီအိုရီအတိုင်း ကျွန်တော်တို့ တွေးကြရင် ဒီလောကကမ္ဘာကြီးကို ဘုရားသခင်က ဘာရည်ရွယ်ချက်မှမရှိဘဲ အချည်းနှီး ဖန်ဆင်းထားတာလား။

နေကိုကြည့်ပါ။ လ,ကိုကြည့်ပါ၊ ဒါမှမဟုတ် အသေးငယ်ဆုံးသော အင်းဆက်ပိုးကောင်လေးကို ကြည့်ပါ။ အဲဒါတွေကို ရည်ရွယ်ချက် တစ်စုံတစ်ရာမရှိဘဲ ဖန်ဆင်းထားတယ်ဆိုတာကော ဖြစ်နိုင်လို့လား။ ဧကန်ပင် အရာရာတိုင်းကို ရည်ရွယ်ချက်နဲ့ ဖန်ဆင်းထားတာဖြစ်တယ်လို့ ကျွန်တော်ရဲ့စိတ်အာရုံထဲမှာ ပေါ်လာပါတယ်။ လူရဲ့ စိတ်လိုအင်ဆန္ဒများသည်ပင်လျှင် ရည်ရွယ်ချက်ရှိရှိနဲ့ ပေါ်လာတာပဲ။ ဒါပေမဲ့ ဒီဘောင်ခတ်ကန့်သတ်ထားတဲ့ လောကကြီးထဲမှာ ဒီရည်ရွယ်ချက်တွေကို မဖြည့်ဆည်းနိုင်ကြပါဘူး။ ဒီဆန္ဒတွေဟာ အကန့်အသတ်မဲ့တဲ့အတွက် အဲဒီဆန္ဒတွေကို အကန့်အသတ်အတိုင်းအဆမရှိတဲ့လောက၊ နိဗ္ဗာန်ဘုံမှာပဲ ဖြည့်ဆည်းနိုင်မှာဖြစ်ပါတယ်။

## နိဗ္ဗာန်ဘုံရဲ့ စစ်မှန်မှု

နိဗ္ဗာန်ဆိုတာဘာလဲလို့ မေးလာကြပါတယ်။ လူတွေရဲ့စူးစမ်းရှာဖွေမှုအတွက် နိဗ္ဗာန်ဆိုတာဟာ အမြင့်ဆုံး၊ အဆုံးအစွန်ဆုံးသော အခြေခံဖြစ်ပါတယ်။ အဲဒီ နိဗ္ဗာန်ဆိုတာ အလွန်ကျယ်ပြောပါတယ်။ မကောင်းမှုတွေ ကင်းဝေးပါတယ်။ ချို့ယွင်းချက်၊ အပြစ်အနာအဆာလည်း ကင်းပါတယ်။ သူ့ဟာသူ ပင်ကိုပြီးပြည့်စုံမှု ရှိပါတယ်။

စကြဝဠာတစ်ခုလုံးမှာ ရေရာသေချာပျံ့နှံ့နေပါတယ်။ ဒါပေမဲ့ လူ့လောက၊ လူ့ကမ္ဘာကတော့ မသေချာမရေရာမှုတွေနဲ့ ရုပ်ပျက်၊ ညစ်နွမ်းနေပါတယ်။ စကြဝဠာထဲမှာ စိုးရိမ်ထိတ်လန့်မှုဆိုတာ မကြားဘူးပါဘူး။ ဒါပေမဲ့ လူ့လောကထဲမှာတော့ လူတွေဟာ စိုးရိမ်ထိတ်လန့်မှုတွေကို အဆက်မပြတ် ခံစားနေရတာပါ။ စကြဝဠာရဲ့ ကျန်အစိတ်အပိုင်းများဟာ ဟန်ချက်ညီဖို့ လိုအပ်ချက် အဝဝကိုလည်း လက်ခံရရှိထားကြပါတယ်။ ဒါပေမဲ့ လူသားကတော့ သူတို့လိုချင်တဲ့အရာတွေကို လည်းမရ၊ နာကျင်ခံစားပြီး တစ်ဖက်စောင်းနင်းဖြစ်နေတဲ့ ဖန်ဆင်းခံတွေဖြစ်ပါတယ်။ ဒါ့အပြင် ကျန်စကြဝဠာတစ်ခုလုံးဟာ မကောင်းမှုကင်းတယ်။ လူသားကတော့ လွတ်လပ်မှုကို အလွဲသုံးလို့ မကောင်းတဲ့ပြဿနာတွေနဲ့ လုံးချာလိုက်နေပါတယ်။

နိဗ္ဗာန်ဘုံဆိုတာ အားလုံးသောပြဿနာအခက်အခဲတွေအတွက် အဖြေဖြစ်ပါတယ်။ လက်ရှိလောကကြီးထဲမှာ တွေ့ရတာတွေအားလုံးကို နိဗ္ဗာန်ဘုံမှာ လူတွေ တွေ့ရှိရလိမ့်မယ်။ ယနေ့ ကမ္ဘာလောကကြီးမှာ ဖြစ်ချင်လိုချင်တာတွေကို မနက်ဖန်ဆိုတဲ့ နိဗ္ဗာန်ဘုံမှာ ရရှိမှာဖြစ်ပါတယ်။

---


အချက်အလက်များ ပိုမိုသိရှိလိုပါက ဆက်သွယ်ရန်–

Positive Thinkers Forum

Peace and Spirituality Centre

Bangalore 560 022, India.

Tel : 091 23376184 Cell : 09342899616

E-mail: al-falah@live.com

E-mail: ptf.myanmar@gmail.com

Visit at www.cpsglobal.org www.cps.org@live.com





# Does the World of the Hereafter Exist?

Maulana Wahiduddin Khan



# တမလွန်လောက ရှိသလား

ဆရာကြီး W. ခန်း





–ကန့်သတ်–

(ဓမ္မလက်ဆောင်)

## ရုပ်လွန်လောက၊ နောင်တမလွန်ဘဝ တည်ရှိသလား။

ဖန်ဆင်းရှင်ရှိတယ်ဆိုတာ သိပ္ပံနည်းကျ သက်သေပြပြီးခဲ့ပါပြီ။ အခု ဒီကမ္ဘာလောကရဲ့အလွန် တမလွန်လောက ရှိသလားဆိုတာကို သိပ္ပံနည်းကျ သက်သေပြဖို့ ကြိုးစားကြည့်ရအောင်။ ကျွန်တော်တို့ပတ်ဝန်းကျင်မှာရှိတဲ့ ရုပ်လောကကို လေ့လာရာမှာ သိပ္ပံနည်းကျ အခြေခံစည်းမျဉ်းတွေကို အသုံးပြုသလို အခုလည်း လက်ရှိ ရုပ်လွန်လောက ရှိ/မရှိ လေ့လာတဲ့အခါမှာလည်း သုံးနိုင်ပါတယ်။

## အဓိပ္ပာယ်ပြည့်စုံသောစကြဝဠာ

စကြဝဠာကို ဖန်ဆင်းတဲ့ဖန်ဆင်းရှင်ဟာ သင်္ချာဦးနှောက်/တွက်ချက်နိုင်စွမ်း ရှိရမယ်လို့ ဆာဂျိမ်းဂျိးန်က တစ်ခါက လေ့လာဟောကြားခဲ့ပါတယ်။ ကျွန်တော် ထပ်လောင်းပြောလိုတာကတော့ စကြဝဠာကြီးကိုဖန်ဆင်းတဲ့အရှင်မှာ နက်နဲတဲ့ ရည်ရွယ်ချက်ရှိရမယ်ဆိုတာကို အဓိပ္ပာယ်ပြည့်ဝတဲ့ စကြဝဠာကြီးက သက်သေအထောက်အထားတစ်ခုဖြစ်တယ်ဆိုတာပါ။ ရည်ရွယ်ချက်တွေ ပြည့်လျှံနေတဲ့ ဖန်ဆင်းရှင်ဟာ မပြည့်စုံတဲ့၊ ထပ်လောင်းဖြည့်စွက်ပေးရမဲ့ လောကကြီးတစ်ခုကို ဖန်ဆင်းမှာ မဟုတ်ပါဘူး။

ဘုရားသခင်၊ ဖန်ဆင်းရှင်ရဲ့ ရည်ရွယ်ချက်တွေဟာ အဓိပ္ပာယ်ပြည့်စုံသော်လည်း ကျွန်တော်တို့ရဲ့ကမ္ဘာလောကကတော့ မပြည့်စုံပါဘူး။ သူ ဒီကမ္ဘာလောက ပြီးပြည့်စုံဖို့အတွက် အခြားကမ္ဘာလောကတစ်ခု တည်ရှိရန် လိုအပ်ပါတယ်။ အဲဒီကမ္ဘာလောကကို ဘုရားရှင်စေလွှတ်တဲ့ တမန်တော်တွေက တမလွန်လောကလို့ ခေါ်ကြပါတယ်။ တမလွန်လောကဟာ တရားသေလက်ခံထားတဲ့ အကြောင်းအရာမဟုတ်ပါဘူး။ လုံးဝသိပ္ပံနည်းကျတဲ့ အကြောင်းရပ်ဖြစ်ပါတယ်။

## သိပ္ပံနည်းကျ သက်သေပြချက်ဆိုတာ ဘာလဲ။

သိပ္ပံနည်းကျသော သက်သေပြချက်ဆိုတာကို ကျွန်တော်တို့ အဓိပ္ပာယ်ဖွင့်ဆိုရပါမယ်။ သိပ္ပံနည်းကျသက်သေပြချက်ဆိုတာ ဘာအကြောင်းကိုဖြစ်စေ သက်သေပြရမယ်၊ အကြွင်းမဲ့သေချာမှု စံချိန်တစ်စုံတစ်ရာရှိနိုင်တယ်လို့ မဆိုလိုပါဘူး။ ငြင်းလို့မရတဲ့ သေချာတိကျမှုမျိုးတော့ မဖြစ်နိုင်ပါဘူး။ တစ်စုံတစ်ရာကို သိပ္ပံနည်းကျ သက်သေပြရမယ်လို့ ပြောတဲ့အခါ အဲဒီပြောဆိုချက်ဟာ ဖြစ်နိုင်ခြေကိုသာ ဆိုလိုတာပါ။ သိပ္ပံနည်းကျ အယူအဆဆိုတာဟာ များသောအားဖြင့် စုစည်းတည်ဆောက်ထားတဲ့ အကြောင်းအရာတွေကို လက်ခံထားတဲ့အတိုင်း တင်ပြထားခြင်းသာဖြစ်ပါတယ်။ ဘာကြောင့်လဲဆိုရင် အဲဒီအယူအဆကိုလည်း ဖြစ်နိုင်ခြေတွေနဲ့ စုစည်းတည်ဆောက်ထားတာကြောင့်ဖြစ်ပါတယ်။ ဥပမာတစ်ခုပြရရင် အက်တမ်ဖွဲ့စည်းမှုကို လက်ခံတာမျိုးဖြစ်ပါတယ်။

ဒါ့အပြင် သိပ္ပံနည်းကျရှုထောင့်မှ တမလွန်လောကကိစ္စကို လေ့လာတဲ့အခါ ကျွန်တော်တို့လက်ကိုင်ထားတဲ့ သိပ္ပံနည်းလမ်းတစ်ခုကို အသုံးပြုဖို့ရာ ကျွန်တော်တို့ မငြင်းဆိုနိုင်ပါဘူး။ ကျွန်တော်တို့ သိနားလည်ကြတဲ့အတိုင်း သိပ္ပံနည်းကျ စုံစမ်းလေ့လာခြင်းတစ်ခုမှာ တွေးဆဆင်ခြင်ခြင်း၊ စူးစမ်းလေ့လာခြင်းနဲ့ စီစစ်အတည်ပြုခြင်းဆိုတဲ့ အဆင့်သုံးဆင့်ရှိပါတယ်။ တမလွန် လောကအတွက် ဒီသုံးချက်ကို အသုံးပြုရင် အဲဒါဖြစ်နိုင်ခြေရှိတယ်ဆိုတဲ့ နားလည်မှုတစ်ခု၊ နားလည်မှုအဆင့်ကို ကျွန်တော်တို့ သေချာပေါက်ရောက်နိုင်ပါတယ်။ ကျွန်တော်တို့ သိနားလည်ထားတဲ့အတိုင်း ဖြစ်နိုင်ခြေဆိုတာဟာလည်း တစ်နည်းပြောရရင် သေချာတယ်ဆိုတာပါပဲ။

## မနက်ဖန်ဆိုတဲ့အယူအဆ

ဘုရားသခင်ဖန်ဆင်းထားတဲ့ သတ္တဝါတွေထဲက အခြားသောသတ္တဝါတွေနဲ့ မတူတဲ့လူဟာ အကြီးမားဆုံးသောလိုအပ်ချက်တစ်ခု အသေအချာရှိပါတယ်။ ဘာကြောင့်လဲဆိုရင် သူ့ရဲ့ရှေ့အနာဂတ်မှာ ဘာရှိသလဲဆိုတာ သူသိရပါမယ်။ သက်ရှိဖြစ်စေ၊ သက်မဲ့ဖြစ်စေ အခြားမည်သည့် အထင်အရှားဖန်ဆင်းခံမှ 'မနက်ဖြန်'ဆိုတဲ့အယူအဆကို မပိုင်ဆိုင်ပါဘူး။ လူကလွဲပြီး အခြား အားလုံးသော သတ္တဝါတွေရဲ့ပန်းတိုင်ဟာ 'ယနေ့'ဆိုတာကို ကောင်းစွာ အသိအမှတ်ပြုထားတာဖြစ်ပါတယ်။ လူရဲ့ပန်းတိုင်သာ 'မနက်ဖြန်'နဲ့ပတ်သက်ပါတယ်။ ဒီ'မနက်ဖြန်'ဟာ တမလွန်လောက၊ နောင်ဘဝကို ရည်ညွှန်းတာ ဖြစ်နိုင်ခြေရှိပါတယ်။

## လူဟာ သူ့ရဲ့လိုအင်ဆန္ဒအားလုံးကို ဖြည့်ဆည်းနိုင်ပါသလား

လူတွေ၊ အမျိုးသားအမျိုးသမီးတွေဟာ သူတို့ရဲ့ဖြတ်သန်းကြရတဲ့ဘဝ တစ်လျှောက်မှာ အဓိက ဆန့်ကျင်ဘက်နှစ်ခုရှိကြတယ်လို့ လေ့လာထားမှုများက ပြနေပါတယ်။ တစ်ဖက်မှာ စည်းစိမ်ချမ်းသာတွေ၊ ပျော်ရွှင်ကြည်နူးမှုတွေနဲ့ သူတို့ရဲ့ စိတ်ကူးယဉ်လောကကို တည်ဆောက်ဖို့ အကန့်အသတ်မရှိတဲ့ လိုအင်ဆန္ဒနဲ့ သူတို့ အချိန်ဖြုန်းနေကြပါတယ်။ ဒါပေမဲ့ အခြားတစ်ဖက်မှာတော့ အဲဒါတွေရဲ့ ဆန့်ကျင်ဘက်တွေနဲ့ သူတို့ ရင်ဆိုင်ကြုံတွေ့နေကြရတာပါ။ ဖြစ်နိုင်ခြေရှိသော်လည်း သူတို့ရဲ့ပတ်ဝန်းကျင်က ရုပ်ဝတ္ထုပစ္စည်းတွေနဲ့ သူတို့ဆန္ဒရှိတဲ့ လောကကို မတည်ဆောက်နိုင်ကြပါဘူး။ စိတ်ငြီးငွေ့မှုတွေ၊ ဆုံးရှုံးမှုတွေ၊ နာမကျန်းဖြစ်မှုတွေ၊ မတော်တဆထိခိုက်မှုတွေ၊ အိုမင်းမစွမ်းမှုတွေနဲ့ နောက်ဆုံး နှစ်ပေါင်း(၁၀၀)ကာလ အတွင်း သို့မဟုတ် နှစ်(၁၀၀)မပြည့်မီမှာ သေခြင်းတရားကို ရင်ဆိုင်ကြရတာပါ။ ဒါဟာ ကမ္ဘာလောကထဲကို မွေးဖွားကြီးပြင်းလာရတဲ့ လူတစ်ဦးချင်းစီရဲ့ သမိုင်းစဉ် ဖြစ်ပါတယ်။

အောက်ဖော်ပြပါ ဥပမာဟာ သင့်လျော်တဲ့ သာဓကတစ်ခုဖြစ်ပါတယ်။

ထင်ရှားကျော်ကြားတဲ့ အမေရိကန်သာသနာပြုတစ်ယောက်ဖြစ်တဲ့ ဘီလီဂရေဟမ်ရဲ့ရေးသားချက်မှာ တစ်ခါတော့ အမေရိကန် ဘီလျံနာ တစ်ယောက်က သူ့ကိုအချိန်မဆိုင်းဘဲ တွေ့လိုတဲ့အကြောင်း အရေးပေါ်ကြေးနန်းစာတစ်စောင်ကို သူလက်ခံရရှိခဲ့တယ်လို့ ဆိုပါတယ်။ အဲဒီကြေးနန်းကို လက်ခံရရှိတာနဲ့ တစ်ပြိုင်နက် ဘီလီဂရေဟမ်ဟာ အခြားချိန်းဆိုထားတာအားလုံးကိုဖျက်ပြီး သူ့ကို တွေ့ချင်တယ်ဆိုတဲ့ဘီလျံနာဆီကို တစ်မုဟုတ်ချင်းပဲ ထွက်ခွာသွားပါတယ်။

ဘီလျံနာရဲ့ ခမ်းနားထည်ဝါတဲ့အိမ်ကို ရောက်သွားတဲ့အခါ သီးသန့်အခန်းထဲသို့ သူ့ကိုခေါ်သွားပြီး နှစ်ယောက် မျက်နှာချင်းဆိုင် ထိုင်ကြပါတယ်။ အဲဒီနောက် ဘီလျံနာက ပြင်းထန်တဲ့စိုးရိမ်စိတ်တွေနဲ့ ဂရေဟမ်ကို ‘‘မင်းမြင်ပါတယ်။ ငါဟာ အိုမင်းရင့်ရော်တဲ့ လူတစ်ယောက်ဖြစ်ပါတယ်။ ငါ့အတွက် အဓိပ္ပာယ်ရှိတဲ့ ဘဝဆုံးရှုံးပြီ။ ငါမသိနိုင်တဲ့နေရာကို သွားရတော့မယ်။ လူကလေး– မင်းငါ့ကို မျှော်လင့်ချက်ရောင်ခြည်တစ်ခုများ ပေးနိုင်မလား’’လို့ ပြောပါတယ်။

ဒီလို ကြံရာမရဖြစ်မှုမျိုးနဲ့ ရင်ဆိုင်ကြုံတွေ့ရမှာ အမေရိကန်ဘီလျံနာ တစ်ယောက်သာ မဟုတ်ပါဘူး။ ဒီကမ္ဘာလောကကြီးထဲကို မွေးဖွားရောက်ရှိလာတဲ့ လူတိုင်း တစ်ချိန်မှာ ရင်ဆိုင်တွေ့ကြုံရမှာဖြစ်ပါတယ်။

နေရာတိုင်းမှာ အကျိုးရှိတဲ့ ဆန့်ကျင်ဘက်စုံတွဲတွေရဲ့ အခြေခံမှုတွေကို လေ့လာဆန်းစစ်ခြင်းဖြင့် ဒီဝိရောဓိတရားတွေနဲ့အတူ ဘဝကို အမိအရ ဆုပ်ကိုင်လာနိုင်မှာပါ။ ကမ္ဘာလောကထဲမှာ အရာရာတိုင်းဟာ ဆန့်ကျင်ဘက်တွေ ပူးတွဲပြီး စုံတွဲတွေဖြစ်နေတာပါ။ အရာရာတိုင်းဟာ တစ်စုံဖြစ်လာမှသာ ပြည့်စုံလာတာဖြစ်ပါတယ်။ အဖိုအမ ဓာတ်မှုန်များမှ အက်တမ်ဖြစ်လာပါတယ်။ အထီးအမတွေ ပေါင်းပြီး လူတွေ၊ တိရစ္ဆာန်တွေဖြစ်လာတယ်။ သစ်ပင်များမှာလည်း အဖိုအမရှိပါတယ်။ ဒါကြောင့် ဒီကမ္ဘာလောကနဲ့အတူ အခြားယှဉ်ပြိုင်လောကရှိရမယ်လို့ ဆိုနိုင်ပါတယ်။ အဲဒီ အပြိုင်ရှိတဲ့လောကထဲမှာ ကျွန်တော်တို့ရဲ့ လက်ရှိကမ္ဘာလောကဟာ အဆုံးသတ်ပါလိမ့်မယ်။

အဲဒီယုတ္တိဗေဒကို ကျွန်တော်တို့လက်ခံရင် အရာရာတိုင်းဟာ အဓိပ္ပာယ်ရှိလာမှာပါ။ အရာရာတိုင်း နေရာကျသွားမှာဖြစ်တယ်။ ဒါပေမဲ့ သေပြီးနောက်လောက၊ တမလွန်ဘဝကို ကျွန်တော်တို့မယုံကြည်ကြရင် ဦးနှောက်ခြောက်စရာ အကောင်းဆုံးအမေးပုစ္ဆာဟာ မဖြေရဘဲ ကျန်နေပါလိမ့်မယ်။

## မှန်ကန်တဲ့ လူ့စည်းကမ်းဘောင်

ယခု ဒီလောက ၂–ခုရဲ့ (လက်ရှိလောကနဲ့တမလွန်လောက)ရဲ့ အခြေခံဘောင်ကန့်သတ်မှုများ၊ စည်းကမ်းများကို နားလည်ဖို့ လုပ်ကြရအောင်။ ဒီဘောင်ထဲမှာ ‘‘နိဗ္ဗာန်’’ဘုံနဲ့ ‘‘ငရဲ’’ဘုံဆိုတဲ့ အယူအဆ ၂–ခုရှိပါတယ်။ အဲဒါဟာ အထင်အရှားပါ။ နိဗ္ဗာန်ဘုံဆိုတာ ချစ်ခင်ဖော်ရွေတတ်တဲ့၊ အမှန်တရားကို မြတ်နိုးတတ်တဲ့ သူတွေအတွက် နားခိုရာနေရာဖြစ်ပြီး ‘‘ငရဲဘုံ’’ဆိုတာကတော့ မိုက်ရိုင်းတဲ့ ယုံကြည်ချက်မှားသူတွေ အတွက်ဖြစ်ပါတယ်။ အဲဒီပုံရိပ်ဟာ လွတ်လပ်တဲ့ ဆန္ဒတွေ ပေးအပ်ထားချက်အရ လူတွေကို စမ်းသပ်ရာနေရာအဖြစ်ထားရှိဖို့ ဖန်ဆင်းရှင်က ပြုလုပ်ထားတဲ့လက်ရှိကမ္ဘာလောကကနေ ဖြစ်ပေါ်ပြောင်းလဲနေခြင်းဖြစ်ပါတယ်။ အဲဒီလိုပဲ ကျွန်တော်တို့လူသားတွေရဲ့ လက်ရှိလောကထဲက အမူအကျင့်တွေအတွက် ဆုလာဘ်၊ ဒါမှမဟုတ် ပြစ်ဒဏ်ခံရဖို့ နေရာအဖြစ် တမလွန်လောကကို ထာဝရဘုရားရှင်က ဖန်ဆင်းထားတာဖြစ်ပါတယ်။